




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ – ၂၁၇/ ၉၉   ၁၉၉၉ ခုနှစ်၊ ဇန်နဝါရီ လ ၁၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး စိန်မြင့် ( ခ ) အိုက် ဘော

(ခ) အဘအမည် ဦး စိဒီ( က်)

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ ပဘတ (ဧည့်) ၀၀၀၀၁၃

(ဃ) နေရပ်လိပ်စာ အမှတ် ၆၄၄၊ ကုန်သည်လမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း အိုင်အက်(စ်)ဂါးမန့် ကုမ္ပဏီလီမိတက် ( I.S Garment Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ် ( ၄၁ )၊ လှိုင်သာယာ စက်မှုဇုန် ( ၂ )၊ ရန်ကုန်တိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၇.၁၀ သန်း ( ကျပ်နှစ်ဆယ့်ခုနှစ်သန်း၊ တစ်သိန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁ /၉၉ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၀ ပြည့်နှစ်၊ ပြာသိုလပြည့်ကျော် ၁၁ ရက်။
(၁၉၉၉ ခုနှစ်၊ ဇန်နဝါရီလ ၁၂ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော အိုင်အက်(စ်) ဂါးမဲန့် ကုမ္ပဏီ လီမိတက် (I.S Garment Co., Ltd.) မှ ဒေါ်ခင်သန်းဌေး အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြို့ပြနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ လှိုင်သာယာ စက်မှုဇုန်(၂)၊ မြေကွက်အမှတ်(၄၁)ရှိ မြေ(၁.၀၄၁)ဧက (၄၂၁၂.၇၈ စတုရန်းမီတာ)ပေါ်ရှိ မြေနှင့် အဆောက်အဦကို ငှါးရမ်း၍ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၁-၁၂-၉၈) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၂၃-၁၂-၉၈)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၄/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အိုင်အက်(စ်) ဂါးမဲန့် ကုမ္ပဏီ လီမိတက် (I.S Garment Co., Ltd.) အား CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက်ခွင့်ပြုမိန့် အမှတ်၊ မနသ-၂၁၇/၉၉ ကို ထုတ်ပေးလိုက်သည်။

၂။ အိုင်အက်(စ်) ဂါးမဲန့် ကုမ္ပဏီ လီမိတက် (I.S Garment Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဌာန်းချက်များနှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက် သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ်မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေပေါ်မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည့်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေ ပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေ ပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများ၊ပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်မှာ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ ၂၁-၅-၉၆ နေ့စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၇၇/၉၆ အရ အကျုံးဝင်ပြီးဖြစ်သည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ အိုင်အက်(စ်) ဂါးမဲန့် ကုမ္ပဏီ လီမိတက် (I.S Garment Co., Ltd.) သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့် အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ငွေချေးသူ၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အိုင်အက်(စ်) ဂါးမဲန့် ကုမ္ပဏီ လီမိတက် (I.S Garment Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ အိုင်အက်(စ်) ဂါးမဲန့် ကုမ္ပဏီ လီမိတက် (I.S Garment Co., Ltd.) သည် အဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၈။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် အငှါးချထားသူ ဒေါ်ခင်သန်းဌေးနှင့် အငှါးချထားခြင်း ခံရသူ အိုင်အက်(စ်) ဂါးမဲန့် ကုမ္ပဏီ လီမိတက် (I.S Garment Co., Ltd.) တို့ချုပ်ဆိုမည့် မြေနှင့် အဆောက်အအုံ ငှါးရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၀။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ အိုင်အက်(စ်) ဂါးမဲန့် ကုမ္ပဏီ လီမိတက် (I.S Garment Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၂။ အိုင်အက်(စ်) ဂါးမဲန့် ကုမ္ပဏီ လီမိတက် (I.S Garment Co., Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၃၀၅/၉၈ (၉ ၉၀၄) (က)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဇန်နဝါရီလ ၁၂ ရက်။

ဖြန့်ဝေခြင်း–
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁)စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၄။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၅။ အုပ်ချုပ်မှုဒါရိုက်တာ၊ အိုင်အက်(စ်) ဂါးမဲန့် ကုမ္ပဏီ လီမိတက် (I.S Garment Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့၊

ရက်စွဲ ။ ၁၃-၁-၉၉

အကြောင်းအရာ။ "မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှပေးသော ခွင့်ပြုမိန့်အား ကိုယ်စားလှယ်လွှဲ ခွင့်ပြုပါရန်။"

ကျွန်တော် ဦးစိန်မြင့် (၁၂/ပဘတ(နိုင်)၀၀၀၀၁၃) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အထည်အမျိုးမျိုး ချုပ်လုပ်ရန် ကမ်းပြလွှာတင်သွင်းခဲ့ရာ ခွင့်ပြုမိန့် ရရှိခဲ့ပြီးဖြစ်ပါသည်။ ကျွန်တော်တွင် ကိုယ်ရေးကိုယ်တာ ကိစ္စ ရှိနေပါ၍ ကျွန်တော့်ကိုယ်စား ဒါရိုက်တာတစ်ဦးဖြစ်သူ ဦး ဆလင်း(ခ)မောင်မြင့် (၁၂/ပဘတ(နိုင်)၀၀၀၀၃၃) အား ကိုယ်စားလှယ်လွှဲ ခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

Salin

ဆလင်း(ခ)မောင်မြင့်

၁၂/ပဘတ(နိုင်)၀၀၀၀၃၃

ဒါရိုက်တာ

I. S Garment Ltd.

ဦးစိန်မြင့်

အုပ်ချုပ်မှုဒါရိုက်တာ

I. S Garment Ltd.

၁၂/ပဘတ(နိုင်)၀၀၀၀၁၃

- မှတ်ပုံတင်မိတ္တူ

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၁/မ-၉၄၁/၉၀ (၆၄၂၃)
ရက်စွဲ၊ ၁၉၉၀ ခုနှစ်၊ ဒီဇင်ဘာလ ၁၆ ရက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ အိုင်အက်(စ်) ဂါးမဲန့်ကုမ္ပဏီလီမိတက်မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အိုင်အက်(စ်) ဂါးမဲန့်ကုမ္ပဏီလီမိတက် (I.S Garment Co., Ltd.) မှ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁၁-၁၂-၉၀) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၂/၉၀) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှလုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူပြီး၊ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူစက်ပစ္စည်းကိရိယာနှင့်လုပ်ငန်းသုံးပစ္စည်းများဝယ်ယူရန်ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ်သဘောတူစာချုပ် (မူကြမ်း)၊ မြေနှင့်အဆောက်အဦငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း) တို့ကို နောက်ဆက်တွဲ (၁) အဖြစ်ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာအမေရိကန်ဒေါ်လာ (၀.၃၅) သန်းအပါအဝင်ကျပ် (၂၇.၁၀) သန်းဖြစ်ပါသည်။ ယင်းတွင်ငွေသားကျပ် (၂၅.၀၀) သန်း၊ စက်ပစ္စည်းကိရိယာများတန်ဖိုးကျပ် (၂.၁၀) သန်း [အမေရိကန်ဒေါ်လာ (၀.၃၅) သန်း] ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာနှင့်လုပ်ငန်းသုံးပစ္စည်းများကိုပါကစ္စတန်နိုင်ငံရှိ AL-AAMIR PVT LTD. မှရွှေ့ဆိုင်းငွေပေးချေခြင်းစနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီး၊ တစ်နှစ်လျှင်အတိုးနှုန်း (၅) ရာခိုင်နှုန်းဖြင့် (၄) နှစ်အတွင်းပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

လျှို့ဝှက်

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ဒေါ်ခင်သန်းဌေး အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင်မြေကွက်အမှတ်(၄၁)၊ လှိုင်သာယာစက်မှုဇုန်(၂)ရှိ မြေ(၁.၀၄၁)ဧက(၄၂၁၂.၇၈ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့်အဆောက်အဦကိုငှားရမ်း၍ အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှ ပုံမှန်နှစ်တွင်ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | C.M.P. နှင့်အရ (၉၅ %) | | ပြည်တွင်းရောင်း (၅ %) | |
|---|---|---|---|---|---|
| | | ထုတ်လုပ်မှု ဒါဇင်(၀၀၀) | ချုပ်ခနှုန်း (US$ / ဒါဇင်) | ထုတ်လုပ်မှု ဒါဇင်(၀၀၀) | ရောင်းဈေးနှုန်း (ကျပ် / ဒါဇင်) |
| ၁။ | Polo Shirt | ၄၅.၆ | ၃.၅၈. | ၂.၄ | ၃၄၀၀ |
| ၂။ | T Shirt | ၄၅.၆ | ၂.၀၈ | ၂.၄ | ၃၀၀၀ |
| ၃။ | Track Suit | ၄၅.၆ | ၆.၀၈ | ၂.၄ | ၁၀၀၀၀ |
| ၄။ | Under Wear | ၁၃.၃ | ၆.၀၈ | ၀.၇ | ၃၂၀၀ |

၅။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့်ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၄၁.၆၀ | ၃.၇၀ | ၄၅.၃၀ |
| (ခ) အသုံးစရိတ် | ၄၁.၂၆ | ၁.၅၆ | ၄၂.၈၂ |
| (ဂ) အသားတင်အမြတ် | ၀.၃၄ | ၂.၁၄ | ၂.၄၈ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့်ပုံမှန်နှစ်တွင်နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | |
|---|---|
| (က) ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) | ၀.၀၆ |
| (ကျပ်သန်း) | ၀.၁၅ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) | ၄.၁၆ |

၇။ ဤလုပ်ငန်းကိုဆောင်ရွက်ရန်အတွက်ပြည်တွင်းမှဝန်ထမ်း (၁၀၀) ဦးခန့်ထားဆောင်ရွက်မည်ဖြစ်ပါသည်။

၈။ ဤလုပ်ငန်းကိုဆောင်ရွက်ရန်အတွက်အမှတ် (၁) စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားလာပါသည်။

၉။ ဤလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှသတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းချက်များကိုလိုက်နာမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက်လိုအင်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ ချေးငွေရယူခြင်းသည်နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိဘဲ၊ ပြန်လည်ပေးဆပ်ရာတွင်လည်းအဆိုပြုလုပ်ငန်းမှရရှိသည့်တရားဝင်နိုင်ငံခြားငွေဖြင့်သာပေးဆပ်မည်ဖြစ်ကြောင်းနှင့်အဆိုပြုလုပ်ငန်းသည်လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များအနက် လုပ်ငန်းနှင့်သက်ဆိုင်သည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် ကော်မရှင်မှညှိနှိုင်းဆုံးဖြတ်ခဲ့ပါသည်။

၁၁။ <u>ဆုံးဖြတ်ရန်အချက်</u>။

(က) အိုင်အက်(စ်)ဂါးမဲန့်ကုမ္ပဏီလီမိတက်မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန်သဘောတူ - မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်သဘောတူပါက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန်သဘောတူ - မတူ။

၁၂။ မြန်မာနိုင်ငံဂုဏ်ထူး နှင့် မြှပ်နှံမှုကော်မရှင်၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကို နှစ်ခြိုက်ထောက်ခံပါသည်။

[ဗိုလ်မှူး ချုပ် မောင်မောင်]
ဝန်ကြီး
နိုင်ငံတော်အေး ချမ်းသာယာ ရေး နှင့်
ဖွံ့ဖြိုး ရေး ကောင်စီဥက္ကဋ္ဌရုံး
နှင့်
အထွေထွေ ရေး မှူး
မြန်မာနိုင်ငံဂုဏ်ထူး နှင့် မြှပ်နှံမှုကော်မရှင် ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။



* အေး * ၉ - ၁၂ - ၉၀



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန

အမှာစာအမှတ် ၅၀/၁စ (၁)(ပ၁၁၇)/၉၈( ၆၃၈၈ )
ရက်စွဲ၊ ရန်ကုန်မြို့၊ ၁၉၉၈ ခု၊ နိုဝင်ဘာ လ ၁၀ ရက်။

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၈ ခုနှစ်၊ အောက်တိုဘာလ ၂ ရက်နေ့စွဲပါ စာအမှတ်၊ ရက-၁/မ-၃၀၅/၉၈(၄၈၂၄)

၁။ အိုင်အက်(စ်)ဂါး မဲန်ကူဖက်ချရီး လီမိတက်မှ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်တွင်အထည်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်လိုခြင်းနှင့်ပတ်သက်၍ ဤဝန်ကြီးဌာနအနေဖြင့်ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

၂။ သို့ရာတွင်ကိုတာသတ်မှတ်ချက်ရှိသောအသင့်ချုပ်ပြီးအထည်များနှင့်ပတ်သက်၍ဤဝန်ကြီးဌာနအနေဖြင့်ကိုတာခွဲဝေပေးနိုင်မည်မဟုတ်ကြောင်းနှင့် အိုင်အက်(စ်)ဂါးမဲန်ကူဖက်ချရီး လီမိတက်သည်ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ မှတ်ပုံတင်ထားခြင်းမရှိသေးပါကြောင်း ဖော်ပြအပ်ပါသည်။

ဝန်ကြီး ( )
( မြင့်ဆွေ၊ ဗိုလ်မှူးချုပ် )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

DSSH

ရွ / * * *

4174
30.11.98

5916
26.11.98

# I . S GARMENT COMPANY LIMITED

No. 644, Merchant Street, Pabedan Township, Yangon, Myanmar. Ph. 243784

---

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

MIC

ရက်စွဲ။ ။ ၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ(၂၆)ရက်၊

အကြောင်းအရာ။ ။ **I . S GARMENT CO., LTD.** မှ အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေနေရာ ပြောင်းလဲ တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၁၁-၉၈ နေ့စွဲပါစာအမှတ် ရက-၁/မ-၃၀၅/၉၈( ၅၅၉၂ )

၁။ အထက်ပါရည်ညွှန်းချက်ပါစာအရ ကျွန်တော်တို့၏ **I . S GARMENT CO., LTD.** ၏ မူလ အဆိုပြုချက်ပါ မြေနေရာမှာ လုပ်ငန်းဆောင်ရွက်ရန် နေရာအကျယ်အဝန်း လုံလောက်မှုမရှိဟု ယူဆ၍ အကျယ်အဝန်းလုံလောက်သည့် မြေနေရာအသစ် ရှာ၍ ပြန်လည်တင်ပြရန် ၃၀-၁၀-၉၈ နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၉၈) ကြိမ်မြောက်ကြိုတင်ညှိနှိုင်း အစည်းအဝေးမှ ဆုံးဖြတ်ခဲ့ကြောင်း အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ လုပ်ငန်းဆောင်ရွက်ရန် မြေနေရာအကျယ်အဝန်းလုံလောက်သည့်မြေနေရာ အသစ်ဖြစ်မည့် မြေအကျယ် (၁.၀၄၁) ဧကရှိ လှိုင်သာယာစက်မှုဇုန်အပိုင်း (၂) မြေကွက်အမှတ် (၄၁) တွင် အထည်ချုပ်လုပ်ငန်း လုပ်ကိုင်ရန်အတွက် မြေနေရာ ပြန်လည်တင်ပြခြင်းကို လက်ခံစဉ်းစားပေးပါရန် လေးစားစွာ တင်ပြအပ်ပါသည်ခင်ဗျား။

| | |
|---|---|
| ရက်စွဲ | ၂၆.၁၁.၉၈ |
| ဝင်စာတင်ပြခြင်း | |
| ဝန်ကြီး | |
| ညွှန်ချုပ် | |
| ဒု-ညွှန်ချုပ် | |
| ညွှန်မှူး | |

ရိုသေလေးစားစွာဖြင့်

ဦးစိန်မြင့်(ခ)အိုက်ဘော
( အုပ်ချုပ်မှုဒါရိုက်တာ )
**I . S GARMENT CO., LTD.**

DSSN / DN ND




စာအမှတ်......
ရက်စွဲ............

# မြေငှားစာချုပ်
# စက်မှုလက်မှုလုပ်ငန်း

၁၉၉၆ ခုနှစ်၊ (မြေငှား) အမှုတွဲ အမှတ် လသ/အပိုင်း(၂)/၂၀၈/၉၆ အရ၊ ထုတ်ပေးသည်။
၁၂-၁၁-၉၆

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟုရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့်စကားရပ်တွင် မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။)

နှင့် ရန်ကုန် မြို့နေ၊ ဦး ဘိုးရစ် – ၏၊ သား/သမီး ဖြစ်သော ဦး ~~JIGK YOUNG MEDICINE COMPANY LIMITED~~ အမျိုးသားမှတ်ပုံတင်အမှတ် ~~[illegible]~~ LKW. ၀၀၅၄၂၇ (နောက်တွင် "အငှား စာချုပ်ရသူ" ဟု ရည်ညွှန်းသည်။) တို့၊ ၁၃၅၈ ခုနှစ်၊ တန်ဆောင်မုန်း လဆန်း/လပြည့်ကျော် ၉ ရက်နေ့၊ ၁၉၉၆ ခုနှစ်၊ (နိုဝင်ဘာ လ ၁၉ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်–ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက–နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်–ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓာတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကွာရီ (Quarries) စသည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းပြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်–ချုပ်ဆိုသည့် ၁၉.၁၁.၁၉၉၆ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြားအတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၁ ခုနှစ် နိုဝင်ဘာ လ ၁၈ ရက်နေ့၌၊ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၂,၅၇၁/- ပြား – (ကျပ်နှစ်ထောင့်ငါးရာခုနစ်ဆယ့်တစ်/-) တိတိကို ဇန်နဝါရီလ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇန်နဝါရီလ ၁–ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁–ရက်နေ့တွင် လည်းကောင်း၊ ဇူလိုင်လ –၁ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇူလိုင်လ ၁–ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁–ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁–ရက်နေ့တွင်လည်းကောင်း ကြိုတင်ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယ တဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက် အပိုဒ် ၃–တွင် ပြဋ္ဌာန်းထားသည့် နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင်ရမည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများသို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည့်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံ ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ် ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၄၀၁၅ )ခုနှစ်၊ ဒီဇင်ဘာ လ၊ ( ၁၈ )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထား သည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေး ဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေး ဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အတူပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ယိုအကြောင်းကြားစာရရှိသည့်နေ့မှခြောက်လ အတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

# မြေနှင့်အဆောက်အအုံငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)

ဤမြေနှင့်အဆောက်အအုံငှားရမ်းခြင်းသဘောတူစာချုပ်ကို ၁၉၉ ခုနှစ် .......... လ .... ရက်နေ့တွင် အမှတ်၁၀၀၊ ရေတာရှည်လမ်းဟောင်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့ တွင်နေထိုင်သူ ဒေါ်ခင်သန်းငွေး (နောင်တွင် `အငှားချထားသူ` ဟုခေါ်တွင်စေရမည်၊ ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်း ခံရသူများပါဝင်သည်) က တစ်ဖက်နှင့်

ပြည်ထောင်စု မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေများအရ ဖွဲ့စည်းထားပြီး အမှတ်(၆၄၄)၊ ကုန်သည်လမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့တွင်တည်ရှိသော **I . S GARMENT CO., LTD.** ကို ကိုယ်စားပြုသူအဖြစ် အုပ်ချုပ်မှုဒါရိုက်တာ ဦးစိန်မြင့်(ခ)အိုက်ဘော (နောင်တွင် `အငှားချထားခြင်းခံရသူ `ဟုခေါ် တွင် စေရမည်၊ ယင်းစကားရပ်တွင် ၎င်း၏ ဆက်ခံသူများနှင့် ဥပဒေ အရ ခွင့်ပြု ထားသည့် လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်) မှ အခြားတစ်ဖက် တို့သည် အောက်ပါအတိုင်း မြေနှင့်အဆောက်အအုံငှားရမ်းခြင်းသဘောတူ စာချုပ်ကို ချုပ်ဆို ကြသည်။

## ၁။ ရည်ရွယ်ချက်

ဤမြေနှင့်အဆောက်အအုံ ငှားရမ်းခြင်းစာချုပ်တွင် `အငှားချထားခြင်းခံရသူ `သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း အခစားချုပ်လုပ်မှုစနစ်ဖြင့်အထည်ချုပ်ခြင်းလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရန် ဆန္ဒဖြင့် မြေကွက်အမှတ် (၄၁)၊ လှိုင်သာယာစက်မှုဇုန်အပိုင်း(၂)၊ ရန်ကုန်မြို့ တည်ရှိသော အငှားချထား သူပိုင် (၁.၀၄၁) ဧက ကျယ်ဝန်း သော ပူးတွဲပါ မြေပုံပါ မြေနေရာနှင့် ၅၀ပေ x ၁၀၀ပေ အကျယ်ရှိ အဆောက်အအုံ ကို ငှားရမ်းခြင်း ဖြစ်သည်။

ဤမြေနှင့်အဆောက်အအုံသည် `အငှားချထားသူ ` မှ လက်ဝယ်ရှိပြီးတရားဝင်ပိုင်ဆိုင်မှုရှိကြောင်း တာဝန်ယူအာမခံပါသည်။သို့ဖြစ်၍ မြေနှင့်အဆောက်အအုံငှားရမ်းခြင်းနှင့်ပက်သက်၍ အောက်ပါသဘောတူညီမှု များကိုနှစ်ဦးနှစ်ဖက် ပြုလုပ်ကြပါသည်။

## ၂။ ငှားရမ်းခ

၂-၁ `အငှားချထားသူ ` သည် အငှားချထားမည့်မြေနှင့်အဆောက်အအုံကိုလွှဲပြောင်းငှားရမ်းပေးရန်နှင့် `အငှားချထား ခြင်းခံရသူ ` သည် ၎င်း မြေနေရာနှင့်အဆောက်အအုံကို ဤမြေငှားသဘောတူစာချုပ်နှင့် အတူပူးတွဲဖော်ပြထား သောမြေ နှင့်အဆောက်အအုံ(နောင်တွင် `အငှားချထားမည့်မြေနေရာနှင့်အဆောက်အအုံဟု ` ခေါ်တွင် စေရမည်) ကိုသုံးစွဲနိုင်သောအခွင့်အရေးနှင့်အတူ ဤမြေနှင့်အဆောက်အအုံ သဘောတူစာချုပ်၏အပိုဒ်ခွဲ(၇)တွင် ဖော်ပြပါရှိသည့် နေ့မှစတင်ပြီး ကနဦး (၂၀)နှစ် နှင့် (၅)နှစ် (၂)ကြိမ်စီဖြင့် သက်တမ်းတိုးမြှင့်သည့်ကာလ အထိ ခန့်မှန်းခြေ မြေဧရိယာ (၂၄၀၀) စတုရန်းပေ ခန့်ရှိသော မြေကွက်နှင့် ၎င်းမြေပေါ်ရှိစတုရန်းပေ ၁၉၂၅ ပေ ရှိ အဆောက် အအုံကိုလက်ခံ ငှားရမ်းအသုံးပြုရမည်။

၂-၂ ဤမြေနှင့်အဆောက်အအုံငှားရရမ်းခြင်းသဘောတူစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ စက်ပစ္စည်းများ တပ်ဆင်နေဆဲ ကာလအတွက် ( စာချုပ်စတင်ချုပ်ဆိုသည့်နေ့မှ ၄ လအတွက် ) ငှားရမ်းခကို သတ်မှတ်ခြင်းမပြုရပါ။ စက်ပစ္စည်းများ တပ်ဆင် ပြီးနောက် လုပ်ငန်းစတင်ဆောင် ရွက်သည့်နေ့မှစ၍ တစ်လလျှင် ကျပ် ၁၀၀၀၀၀/- (ကျပ်တစ်သိန်းတိတိ) နှုန်းဖြင့် ငှားရမ်းခအဖြစ် သတ်မှတ်ပေးချေရပါမည်။ စက်တပ်ဆင်မှုလုပ်ငန်းကို သတ်မှတ် ၄ လအတွင်း အပြီးဆောင်ရွက်ရမည်။

၂-၃ နှစ်စဉ်ငှားရမ်းခကိုအငှားချထားခြင်းခံရသူက အငှားချထားသူသို့ပေးချေရာတွင် ဘဏ္ဍာနှစ်စာရင်းပိတ်သည်အထိ စောင့်ဆိုင်းခြင်းမပြုဘဲ တစ်လလျှင် ကျပ်၁၀၀၀၀၀/- (ကျပ်တစ်သိန်းတိတိ) နှုန်းဖြင့်သုံးလလျှင်တစ်ကြိမ် ပထမလ၏ ၁၅ ရက်အတွင်း ကြိုတင် ပေးဆောင်ရမည်ဖြစ်သည်။

## ၃။ အငှားချထားခြင်းခံရသူများ၏ တာဝန်များ

၃-၁ အငှားချထားခြင်းခံရသူသည် အငှားချထားသူများနှင့် ရှင်းလင်းစွာပြုလုပ်ထားသော ဆောင်ရွက်ပေးရန်တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

(က) ငှားရမ်းသည့်ကာလများအတွက် ငှားရမ်းခများကို သတ်မှတ်သဘောတူထားသောနေ့ရက်တွင်ပေး ရမည့် အပြင် သက်ဆိုင်ရာ အာဏာပိုင်များသို့ ပေးဆောင်ရမည့်ဝန်ဆောင် မှုနှင့်စပ်လျဉ်းသောအခကြေးငွေကို လည်းမှန်မှန် ပေးဆောင်ရမည်။

(ခ) အငှားချထားသောမြေနေရာနှင့်အဆောက်အအုံကိုထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းခြင်း၊ ခွဲစိတ်ရောင်းချခြင်း စသည်တို့ကို လုံးဝဆောင်ရွက်ခြင်း မပြုလုပ်ရ။

(ဂ) အငှားချထားသောမြေနေရာနှင့်အဆောက်အအုံတွင်လုပ်ငန်းများဆောင်ရွက်အကောင်အထည်ဖော်ရာ၌ ပြည်ထောင်စုမြန်မာနိုင်ငံ၏

တရားဝင်တည်ဆဲ ဥပဒေများနှင့်အညီ ကိုက်ညီမှု ရှိအောင် ဆောင်ရွက်ရမည်။

(ဃ) စည်ပင်သာယာခွန် အပါအဝင်ဖြစ်သော အခြားအလားတူ လုပ်ငန်းသဘောအရ ပေးဆောင်ရန်ရှိသော အခွန်အကောက်များကို ပေးဆောင်ရမည်။

(င) အငှားချထားသော မြေပေါ်ရှိ အဆောက်အအုံများနှင့် လုပ်ငန်းအတွက် လိုအပ်သောအာမခံများကို မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် မြန်မာ့အာမခံဥပဒေနှင့်အညီ ထားရှိရမည်။

(စ) အငှားချထားခြင်းခံရသူသည် မိမိလုပ်ငန်းမှ စွန့်ပစ်ပစ္စည်းကြောင့်ပတ်ဝန်းကျင်ရှိ မြေနေရာ၊ ရေ နှင့် လေထုညစ်ညမ်းမှုများမှ ကာကွယ်ရေးအတွက်တာဝန်ယူပါသည်။

## ၄။ အငှားချထားသူ၏ တာဝန်များ

၄-၁ အငှားချထားသူသည် အငှားချထားခြင်းခံရသူအား ဆောင်ရွက်ပေးရန်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) အငှားချထားခြင်းခံရသူအနေဖြင့် ငှားရမ်းခများကို ပေးဆောင်ရန်မလိုပဲ ငှားရမ်းကာလအတွင်း အငှားချ ထားသောမြေနှင့် အကျုံးဝင်သည့်အရာများနှင့် အဆောက်အအုံကိုငြိမ်းချမ်းစွာအေးဆေးစွာနှင့် အနှောင့် အယှက်ကင်းစွာ တို့ဖြင့်အသုံးပြုဆောင်ရွက်ပိုင်ခွင့်ရှိ စေရမည်ဖြစ်ပြီး ငှားရမ်းသည့်ကာလအတွင်း အငှားချထား သူ၏ယုံကြည်အပ်နှံသူတို့မှ ပါဝင်ပတ်သက်မှုများဖြင့် ဝင်ရောက်နှောက်ယှက်ခြင်း မရှိစေရ။

(ခ) အငှားချထားသူသည်အငှားချထားသောမြေနှင့်ပတ်သက်သည့် ပေးဆောင်ရန်ရှိသောမြေခွန်ကို ပေးဆောင်ရမည်။

## ၅။ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၅-၁ ငှားရမ်းသည့်ကာလများအတွင်းအငှားချထားသော မြေနေရာနှင့်အဆောက်အအုံကို ကောင်းမွန်စွာထိန်းသိမ်း ရမည် ဖြစ်ပြီး ငှားရမ်းသည့် ကာလ ကုန်ဆုံးသောအခါတွင်ဖြစ်စေ၊ သို့မဟုတ် ထပ်မံတိုးချဲ့ငှားရမ်းခြင်းကာလ ကုန်ဆုံးသောအခါတွင်ဖြစ်စေ သို့မဟုတ် လုပ်ငန်းရပ်စဲသည့်အခါတွင်ဖြစ်စေ၊ ၎င်းမြေနေရာနှင့် အဆောက်အအုံကို အငှားချထားသူထံသို့ ကောင်းမွန်သောအနေအထားဖြင့် အဖိုးစားနားမပါဝင်ပဲ ပြန်လည် လွှဲပြောင်း ပေးရမည်။ ထိုသို့လွှဲအပ်ရာ ၌ အဆောက်အအုံ တွင်တည်ဆောက်တပ်ဆင်ပြီး မရွှေ့မပြောင်းနိုင်သောပစ္စည်းများအား အဆောက်အအုံနှင့် အတူတပါတည်းလွှဲအပ်ရမည်။

## ၆။ ငှားရမ်းခတိုးမြှင့်ခြင်း

၆-၁ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူ တို့သည် အငှားချထားသောမြေနေရာနှင့်အဆောက်အအုံအတွက် ငှားရမ်းခြင်းစတင် အတည်ဖြစ်သည့်နေ့မှစ၍ (၅)နှစ်လျှင်တစ်ကြိမ်ငှားရမ်းခနှုန်းထားများကို ပြီးခဲ့သော(၅)နှစ်တာ ကာလ၏ငှားရမ်းခနှုန်းများ ထက် ၁၅% ထက်မပိုစေဘဲတိုးမြှင့်ခြင်းကိုပြုလုပ်ရန်အတွက် ပြန်လည်ညှိနှိုင်း ပြင်ဆင် သုံးသပ်ပိုင်ခွင့် ရှိစေရမည်။

## ၇။ ငှားရမ်းခြင်း၏ သက်တမ်း

၇-၁ ဤမြေနှင့်အဆောက်အအုံငှားရမ်းခြင်းသဘောတူစာချုပ်အရ ငှားရမ်းခြင်း၏သက်တမ်းမှာ စာချုပ်ချုပ်ဆိုပြီး စက်တပ်ဆင်ရေးကာလ (၄)လကုန်ဆုံးပြီး နောက်နေ့မှစ၍ ကနဦးအနေဖြင့် (၂၀)နှစ် ဖြစ်ပြီးထိုသက်တမ်းကုန်ဆုံးပါက တစ်ကြိမ်လျှင်(၅)နှစ်စီဖြင့် (၂)ကြိမ်အထိ တိုးမြှင့်ငှားရမ်း နိုင်ရေးအတွက် အငှားချထားသူ၏ ဆန္ဒနှင့်အညီ ဆက်လက်ငှားရမ်းမည်ဖြစ်သည်။ စုစုပေါင်းသက်တမ်း(၃၀)နှစ် ကုန်ဆုံးပြီးပါကနှစ်ဦးနှစ်ဖက်ညှိနှိုင်းသဘောတူညီမှုအရ ဆက်လက်တိုးမြှင့်ငှားရမ်းမည်ဖြစ်သည်၊ ထိုသို့တိုးမြှင့် ငှားရမ်းခြင်းနှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက် ရရှိပြီးမှသာလျှင် အတည် ဖြစ်စေရမည်။

## ၈။ အဆောက်အအုံပြင်ဆင်စရိတ်

၈-၁ အငှားချထားစဉ်အတွင်း အဆောက်အအုံနှင့်ပတ်သက်သောပြင်ဆင်စရိတ်များကို အငှားချထားခြင်းခံရသူမှ တာဝန်ယူ ပေးဆောင်ရ မည်ဖြစ်သည်။

## ၉။ မလွှဲမရှောင်နိုင်သည့် ဖြစ်ရပ်များ

၉-၁ မလွန်ဆန်နိုင်သည့် သဘာဝအန္တရာယ်များဖြစ်သည့် ရေကြီးခြင်း၊ လေမုန်တိုင်းကျရောက်ခြင်း၊ စစ်မက်ဖြစ်ပွား ခြင်း၊ မြေငလျင် တုန်လှုပ်ခြင်းနှင့် အလားတူထိန်းချုပ်၍မရနိုင်သည့်ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ဘက်ကမျှ ကြိုးစားအားထုတ်ဆောင်ရွက်မှုဖြင့်

တားဆီး မရနိုင်သော ဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှစာချုပ်ပါ တာဝန်များကို ထမ်းဆောင်ရန်ပျက်ကွက်ပါက အဆိုပါမလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များပေါ်ပေါက်ကြောင်းကို ဖြစ်ပေါ်သည့် အချိန် မှ(၁၄)ရက် အတွင်းအခြားတစ်ဖက်သို့စာဖြင့် အကြောင်းကြားရမည်။ အခြားတစ်ဖက်ကလည်းမလွန်ဆန်နိုင်သည့် ဖြစ်ရပ်ပေါ်ပေါက်ကြောင်းလက်ခံပါက စာချုပ်ချုပ်ဆိုသူနှစ်ဦးနှစ်ဖက်လုံးတွင် မည်သည့်တာဝန်မျှမရှိစေရ၊ မလွန် ဆန်နိုင်သည့်ကာလကို စာချုပ်သက်တမ်းကာလမှ ထုတ်နုတ်ရန် သဘောတူကြပါသည်။

## ၁၀။ သဘောတူစာချုပ် စတင်အကျိုးသက်ရောက်သောနေ့

၁၀-၁ ဤသဘောတူစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူနှစ်ဦးနှစ်ဖက်မြေငှားသဘောတူစာချုပ် ကို လက်မှတ်ရေးထိုး သဘောတူညီသည့်နေ့မှစတင်၍ အကျိုးသက်ရောက်မှုရှိစေရမည်ဖြစ်သည်။

## ၁၁။ စာချုပ် ရုပ်သိမ်းခြင်း

၁၁-၁ ဤသဘောတူစာချုပ်ကို အောက်ပါအခြေအနေတစ်ရပ်ရပ် ပေါ်ပေါက်လာပါကရုပ်သိမ်းခြင်းပြုလုပ်နိုင်သည်။

(က) လုပ်ငန်းတွင် ကြီးမားစွာဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) မြေနှင့်အဆောက်အအုံငှားသဘောတူစာချုပ်ဝင် တစ်ဖက်ဖက်မှစာချုပ်ပါတာဝန် များဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုလုပ်နိုင်သောမလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များ(၆)လထက်ပိုမိုဖြစ် ပေါ်လာခြင်း၊

(ဃ) သဘောတူစာချုပ်၏မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိခြင်း၊

၁၁-၂ သို့သော်ငြားလည်းအငှားချထားခြင်းခံရသူသည် ၎င်း၏လုပ်ငန်းများဆက်လက်ဆောင်ရွက်နိုင်ရန်နှင့်ပြန်လည်တည်ထောင်မှု ပြုလုပ်နိုင်ရန်အတွက် ဤသဘောတူစာချုပ်ပါ၎င်း၏ အခွင့်အရေးများကို ခြွင်းချက်အဖြစ်သက်သာ ခွင့်ရရှိစေနိုင်ပါသည်။ ဤသဘောတူစာချုပ်တွင်ပါရှိသော ပြဋ္ဌာန်းချက်များနှင့် အညီနှစ်ဦးနှစ်ဖက်တို့သည်ဤ သဘောတူစာချုပ်ကို ရုပ်သိမ်းလိုပါကရုပ်သိမ်းလိုကြောင်းကြားစာကို အခြားတစ်ဖက်ထံသို့ (၃)လကြိုတင်၍ ပေးပို့အသိ ပေးရမည်။

၁၁-၃ ဤကဲ့သို့မြေနှင့်အဆောက်အအုံငှားသဘောတူစာချုပ်ရုပ်သိမ်းရာတွင်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူအတည်ပြုချက် ရရှိပြီးမှ သာလျှင်စာချုပ်ရုပ်သိမ်းနိုင်ခွင့်ရှိသည်။

## ၁၂ အနုညာတ စီရင်ဆုံးဖြတ်ခြင်း

၁၂-၁ အကယ်၍ဤ မြေနှင့်အဆောက်အအုံငှားသဘောတူစာချုပ်ပါအချက်အလက်များနှင့်ပတ်သက်ပြီးအကောင်အထည် ဖော်ဆောင်ရွက်ရာ
၁ တွင်ဖြစ်စေ၊ အဓိပ္ပာယ်လွဲမှားမှုကြောင့်ဖြစ်စေ အငြင်းပွားမှုဖြစ်ပေါ်လာပါက သဘောတူစာချုပ် တွင် လက်မှတ်ရေး ထိုးထားသည့် နှစ်ဦးနှစ်ဖက်စလုံးမှညှိနှိုင်းဆွေးနွေးခြင်းဖြင့်အငြင်းပွားမှုများကို ပြေလည်ငြိမ်း အေးစေနိုင်သည်။ နှစ်ဦး နှစ်ဖက် အကျေအလည်ညှိနှိုင်းဆွေးနွေး၍ မရရှိခဲ့ပါက မြန်မာနိုင်ငံအတွင်း၌ နှစ်ဦးနှစ်ဖက် အတွက်ခုံသမာဓိလူကြီးတစ်ဦးစီခန့်ထားပြီးညှိနှိုင်းဆွေးနွေး နိုင်ခွင့်ရှိသည်။ နှစ်ဦးနှစ်ဖက်မှ တင်မြှောက်ထားသော ခုံသမာဓိလူကြီးများမှအငြင်းပွားမှုများကို ပြေလည်အောင်ဖြေရှင်းပေးနိုင်ခြင်းမရှိခဲ့ပါက အဆိုပါခုံသမာဓိလူကြီးများ သဘောတူသော ခုံသမာဓိလူကြီး၏အဆုံးအဖြတ် ကိုနှစ်ဖက်စလုံးမှ လက်ခံကြရမည်။ ၎င်းခုံသမာဓိလူ ကြီး၏ အဆုံးအဖြတ်မှာ အနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအက်ဥပဒေအမှတ် ၄) အရဖြစ်ရပါမည်။ ခုံသမာဓိအဖွဲ့၏ဖြေရှင်းဆုံးဖြတ်ရန်နေရာမှာ ရန်ကုန်မြို့ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်းတွင်သာဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ ကုန်ကျစရိတ်များကို အမှုရှုံးသည့်ဘက်မှ ကျခံပေးဆောင်ရမည်။

## ၁၃ လွှမ်းမိုးသော ဥပဒေ

၁၃-၁ ဤသဘောတူစာချုပ်ကို မြန်မာနိုင်ငံ ဥပဒေများနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ရမည်။ ဤစာချုပ်ကို လွှမ်းမိုးသောဥပဒေသည် မြန်မာနိုင်ငံ၏တည်ဆဲဥပဒေများဖြစ်သည်။ ဤစာချုပ်ပါနှစ်ဦးနှစ်ဖက်စလုံးသည် စီရင်ပိုင် ခွင့်ရှိသောသက်ဆိုင်ရာ မြန်မာတရားရုံးနှင့် အယူခံမှုများကို ကြားနာနိုင်သောတရားရုံးအားလုံး၏စီရင်ပိုင်ခွင့်ကို လက်ခံကြပါသည်။

## ၁၄ ကြိုတင် စည်းကမ်းသတ်မှတ်ချက်များ

၁၄-၁ ဤသဘောတူစာချုပ်တွင်ပါဝင်သောလုပ်ငန်းဆောင်ရွက်ချက်များကို အကောင်အထည်ဖော်ဆောင်ရွက်မှုများအတွက် သက်ဆိုင်ရာအစိုးရဌာန အဖွဲ့အစည်းများ၏ ခွင့်ပြုသဘောတူညီချက်ရရှိပြီးမှသာလျှင် ဆောင်ရွက်နိုင်ခွင့်ရှိကြမည် ဖြစ်သည်။

## ၁၅ စာချုပ်အားဖြင့် ပြန်လည်ပြင်ဆင်စေ့စပ်ညှိနှိုင်းခြင်း

၁၅-၁ ဤသဘောတူစာချုပ်၌ ကြိုတင်မမျှော်မှန်းနိုင်သော အခြေအနေတစ်ခုခုပေါ်ပေါက်လာသဖြင့် စာချုပ်ပါအချက် အလက်များကို ဆက်လက်ဆောင်ရွက်ရန်မဖြစ်နိုင်သောအခါမျိုးတွင် နှစ်ဦးနှစ်ဖက်မှ စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါ အချက်များကိုလိုအပ်သလို ပြင်ဆင်ခွင့်ရှိ စေရမည် ဖြစ်သည်။ဤကဲ့သို့ပြင်ဆင်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီအတည်ပြုချက်ရရှိပြီးမှသာလျှင် အတည်ဖြစ်မည်ဖြစ်သည်။

## ၁၆ ကိုယ်စားပြုခြင်းနှင့် အာမခံချက်

၁၆-၁ ဤမြေနှင့်အဆောက်အအုံငှားသဘောတူစာချုပ်ကို ပါဝင်ချုပ်ဆိုကြသူနှစ်ဦးနှစ်ဖက်တို့သည်ဤသဘောတူစာချုပ်ကို ချုပ်ဆိုနိုင်ရန်အတွက်သက်ဆိုင်သောဥပဒေများနှင့်အညီ တရားဝင်ဖွဲ့စည်းတည်ထောင်ထားကြပြီးလျှင် ဥပဒေအရ လုပ်ပိုင်ခွင့် အခွင့်အာဏာနှင့်စီးပွားရေးအရ ခိုင်မာတောင့်တင်းမှုရှိသောသူများဖြစ်ကြောင်းအာမခံ သည်။

## ၁၇ ဘာသာစကား

၁၇-၁ ဤမြေနှင့်အဆောက်အအုံငှားသဘောတူစာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၏တည်ဆဲဥပဒေပြဋ္ဌာန်းချက် များနှင့်အညီမြန်မာဘာသာ ဖြင့်စာချုပ်သုံးစောင်ရေးသားပြီးလျှင်စာချုပ်နှစ်စုံကိုနှစ်ဦးနှစ်ဖက်မှ တစ်စုံစီယူ ထားပြီး ကျန်သောစာချုပ်တစ်စုံကို သက်ဆိုင်ရာအာဏာပိုင်အဖွဲ့အစည်းထံသို့ပေးပို့၍စိစစ်ဆေးခြင်းနှင့်အတည်ပြုချက် များ ရယူရန် ပေးပို့ရမည်။

## ၁၈ အကြောင်းကြားစာ

၁၈-၁ ဤသဘောတူစာချုပ်နှင့် ပတ်သက်၍အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများအားအောက်ဖော်ပြပါလိပ်စာ များအတိုင်းမြန်မာဘာသာဖြင့် ရေးသားပြီးလျှင်စာတိုက်မှ မှတ်ပုံတင်ချောစာဖြင့်ဖြစ်စေ သို့မဟုတ် တဲလက်စ်ဖြင့် ဖြစ်စေ၊ ဖက်စ်ဖြင့်ဖြစ်စေ နှစ်ဦးနှစ်ဖက်ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ပေးပို့ရာတွင် သဘောတူစာချုပ် ချုပ်ဆိုစဉ်က လိပ်စာအတိုင်းသော်လည်းကောင်း၊ တစ်ဖက်မှအကြောင်းကြားလာ သည့် အခြားလိပ်စာဖြင့်သော် လည်းကောင်း ဆက်သွယ်ပေးပို့ရမည်။
လိပ်စာများမှာ -

| | | | | | |
|---|---|---|---|---|---|
| (က) | `အငှားချထားသူ ` | (၁) | အမည် | - | ဒေါ်ခင်သန်းငွေ |
| | | (၂) | လိပ်စာ | - | အမှတ်(၁၀၀)၊ ရေတာရှည်လမ်းဟောင်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၃) | ဖုန်းအမှတ် | - | |
| | | (၄) | ဖက်စ်နံပါတ် | - | |
| | | (၅) | တဲလက်စ်နံပါတ် | - | |
| (ခ) | `အငှားချထားခြင်းခံရသူ ` | (၁) | အမည် | - | I. S Garment Co., Ltd. |
| | | (၂) | လိပ်စာ | - | အမှတ်(၆၄၄)၊ ကုန်သည်လမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၃) | ဖုန်းအမှတ် | - | |
| | | (၄) | ဖက်စ်နံပါတ် | - | |
| | | (၅) | တဲလက်စ်နံပါတ် | - | |

၁၈-၂ ယခုကဲ့သို့စာချုပ်စာတမ်းများပေးပို့ဆက်သွယ်သည့်အခါတွင် ပေးပို့ခြင်းကို စတင်ပေးပို့သည့်နေ့ မှ (၇) ရက် အတွင်း အတည်ဖြစ်သည်။ အကယ်၍တစ်ဖက်ဖက်မှလိပ်စာအပြောင်းအလဲရှိပါက စာဖြင့်ရေးသားပြီး အကြောင်း ကြားစာကို ပေးပို့ရမည်။

## ၁၉ အငှားချထားသော မြေပုံ

၁၉-၁ ဤမြေနှင့်အဆောက်အအုံငှားသဘောတူစာချုပ်အရ အငှားချထားမည့်သူပိုင် ရန်ကုန်မြို့၊ [illegible] မြေတိုင်းရပ်ကွက်(၆၄)၊ မြေကွက်အမှတ်(၆၆) ရှိ (၀.၀၅၅) ဧကကျယ်ဝန်းသော [illegible] ကိုနောက်ဆက်တွဲ(က) တွင်ပူးတွဲဖော်ပြပါသည်။

## ၂၀ တွင်းထွက်ပစ္စည်းများနှင့် သွဲ့ဇာတပစ္စည်းများ

၂၀-၁ ဤမြေနှင့်အဆောက်အအုံငှားသဘောတူစာချုပ်အရ ငှားရမ်းမှုပြုလုပ်ထားသော မြေနေရာတွင် မည်သည့်အချိန်၌မဆို ထွက်ပေါ်ရှိလာသောဓာတ်သတ္တုများ၊ သဘာဝတွင်းထွက်သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ကြေးနီ၊ ရေနံနှင့်အခြားသော တူးဖော်ရရှိလာမည့်သဘာဝအရင်းအမြစ်များအားလုံးသည်အငှားချထားသူနှင့်သာ သက်ဆိုင် စေရမည် ဖြစ်ပြီး အငှားချထားသူအနေဖြင့် သက်ဆိုင်ရာရာနသို့အကြောင်းကြားတင်ပြရမည်ဖြစ်သည်။

## ၂၁ ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိမ်းသိမ်းကာကွယ်ခြင်း

၂၁-၁ အငှားချထားခြင်းခံရသူသည် မိမိလုပ်ငန်းမှ စွန့်ပစ်ပစ္စည်းကြောင့်ပတ်ဝန်းကျင်ရှိ မြေနေရာ၊ ရေ နှင့် လေထု ညစ်ညမ်းမှုမှ ကာကွယ်ရန် တာဝန်ယူမည်ဖြစ်သည်။

## ၂၂ အထွေထွေ

၂၂-၁ ဤမြေနှင့်အဆောက်အအုံငှားသဘောတူစာချုပ်တွင် ဖော်ပြပါရှိသော အချက်အလက်များသည် သင်းဖွဲ့စည်းမျဉ်းတွင် ပြဋ္ဌာန်းထားသော အချက်အလက်များနှင့် အဓိပ္ပာယ်ကွဲလွဲခြင်း၊ ရှေ့နောက်မညီမညွတ်ဖြစ်နေခြင်းများ ဖြစ်ပေါ်လာ ပါကမြေငှားသဘောတူစာချုပ်တွင် ပြဋ္ဌာန်းထားသောအချက်အလက်များကိုသာ အတည်ဖြစ်သည်ဟု မှတ်ယူစေရမည် ဖြစ်သည်။

ဤသဘောတူစာချုပ်ကို အထက်ဖော်ပြပါ ခုနှစ်၊ လ နှင့် နေ့ရက်တွင် နှစ်ဦးနှစ်ဖက်မှ တရားဝင်ကိုယ်စားလှယ်များက တံဆိပ်ရိုက်နှိပ်ပြီး လက်မှတ်ရေးထိုးသဘောတူညီကြပါသည်။

**အငှားချထားသူ**
ဒေါ်ခင်သန်းဌေး
LKW - 005427

လက်မှတ် ................

အမည် ..................

လိပ်စာ ..................
..................
..................

**အငှားချထားခြင်းခံရသူ**
ဦးစိန်မြင့်(ခ)အိုက်ဘော
12/Pa Ba TA (Ei) 000013

လက်မှတ် ................

အမည် ................

လိပ်စာ ..................
..................
..................

အသိသက်သေ

လက်မှတ် ..................

အမည် ..................

လိပ်စာ ..................
..................
..................

အသိသက်သေ

လက်မှတ် ..................

အမည် ..................

လိပ်စာ ..................
..................
..................

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Tel : 272052, 272870, 272912
Fax : 095-01-282101

စာအမှတ် ၊ ရက-၁/မ-၃၀၅/၉၈ ( ၁၁၇၃၁ )
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်။

အကြောင်းအရာ။ လုပ်ငန်းသုံးအတွက် မော်တော်ယာဉ်များ တင်သွင်းရန် ကိစ္စ။

၁။ အိုင်အက်(စ်) ဂါးမဲန့် ကုမ္ပဏီ လီမိတက် (I.S Garment Co., Ltd.) မှ C.M.P စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ကို (၁၁-၁၂-၉၈)နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေးမှ လုပ်ငန်းအတွက် မော်တော်ယာဉ်များ တင်သွင်းမှုနှင့် ပတ်သက်၍ တည်ဆောက်ရေးကာလအတွင်း Wagon 1(one) No. ကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်း စတင်ဆောင်ရွက်သည့် အချိန်တွင် Saloon 1(one) No. ကို အခွန်အကောက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်းခွင့် ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါဆုံးဖြတ်ချက်ကိုလိုအပ်သလို ဆောင်ရွက်နိုင်ရန်နှင့် ကုန်ပစ္စည်းများ တင်သွင်းရာတွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ သွင်းကုန်လိုင်စင် လျှောက်ထား ရယူရန် လိုအပ်ကြောင်း အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

အုပ်ချုပ်မှု ဒါရိုက်တာ
အိုင်အက်(စ်) ဂါးမဲန့် ကုမ္ပဏီ လီမိတက်။

မိတ္တူကို -
(၁) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
(၂) ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။
(၃) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ် (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန)။
(၄) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
(၅) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
(၆) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

